# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

**အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ**

# မြန်မာ ပိုက်(စ်) အင်(န်) အက်စက်စရီး (စ်) **ကုမ္ပဏီ လီမိတက်**

၏

# သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

**ကုမ္ပဏီ၏** အမည်သည် "မြန်မာ ပိုက်(စ်) အင်(န်) အက်စက်စရီး (စ်) **ကုမ္ပဏီ လီမိတက်** " ဖြစ်ပါသည်။

**ကုမ္ပဏီ၏** မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

**ကုမ္ပဏီ** တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းသည် ကျပ် ၁၀၀,၀၀၀,၀၀၀ /-(ကျပ်တစ်ရာသန်း တိတိ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀ /-(ကျပ်တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် **အာဏာရှိစေရမည်။**

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊

(ခ) ~~(ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊~~

(ဂ) ~~တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊~~

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊

(င) ~~ဓာတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစာအစာများ ထုတ်လုပ်ခြင်း၊~~

(စ) ~~လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဇ) ~~ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

(ဈ) ~~လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊~~

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊

(ဋ) ~~စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

(ဌ) ~~လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

(ဍ) ~~ဆေးဝါးထုတ်လုပ်ခြင်း၊~~

(ဎ) ~~အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊~~

(၂) အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊တစ်စိတ်တစ်ဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

~~(၃) ဆောက်လုပ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန်နှင့် ယင်းလုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများနှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်။~~

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

**ခြွင်းချက်**။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ်။ | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
| --- | --- | --- | --- | --- |
| ၁။ | ဦးသိန်းဟန်<br>အမှတ် ၁၀၅/၇၊ သံလွင်လမ်း၊<br>ကမာရွတ်မြို့နယ်၊<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>ဘီ/အာရ်ဂျီအင်(န်)<br>၀၂၃၄၈၅ | ၂၀ | |
| ၂။ | ဒေါ်သီသီ<br>အမှတ် ၂၅၊ ဒီ(၁)၊<br>တက္ကသိုလ်ရိပ်သာလမ်းသစ်၊<br>ဗဟန်းမြို့နယ်၊<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>အယ်လ်အမ်ဒီဒဗလျူ<br>၀၀၀၅၃၄ | ၂၀ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၈ ခုနှစ်၊ ဒီဇင်ဘာ လ၊ ၄ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

တိုးလင်း
ဘီကွမ်း၊ ဘီအေ [illegible]
မှတ်ပုံတင်စာ [illegible]
ဘဏ္ဍာရေး [illegible]

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

## မြန်မာပိုက်(စ်)အင်(န်)အက်စက်စရိုး (စ်) ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၁၀၀၀၀၀၀၀၀ /-(ကျပ် တစ်ရာသန်းတိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀ /-(ကျပ် တစ်သောင်းတိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀၀၀၀ ) ခွဲထားပါသည်။

**ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့်** လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၅ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်–

(၁) ဦး သိန်း ဟန်

(၂) ဒေါ်သီသီ

(၃)

(၄)

(၅) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( – )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာ ဦးရေသတ်မှတ်ခြင်း တို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကို မဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေ အတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာ အားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ–

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်း သတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည် ပေးဆပ်ရန်အတွက် အာမခံများ ထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ် အားလုံးကို ဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကန့်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးကအတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသောစာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှ သည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးသိန်းဟန်<br>အမှတ် ၁၀၅/၇၊ သံလွင်လမ်း၊<br>ကမာရွတ်မြို့နယ်၊<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>ဘီ/အာရ်ဂျီအင်(န်)<br>၀၂၃၄၈၅ | ၁၈ | |
| ၂။ | ဒေါ်သီသီ<br>အမှတ် ၂၅၊ ဒီ(၁)၊<br>တက္ကသိုလ်ရိပ်သာလမ်းသစ်၊<br>ဗဟန်းမြို့နယ်၊<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>အယ်လ်အမ်ဒီဒဗလျူ<br>၀၀၀၅၃၄ | ၁၀ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၈ ခုနှစ်၊ ဒီဇင်ဘာ လ၊ ၄ ရက်။

**အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။**

ထိန်လင်း

**ဘီကွမ်း၊** ဘီအယ်လ်၊ [illegible] ဒီအက်ဖ်အမ်

မှတ်ပုံတင်စာရင်း [illegible] နှင့်

ဘဏ္ဍာရေးအကြံပေးပုဂ္ဂိုလ်

[illegible] ၉၉

[illegible] 3/3/99

<u>မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ</u>

<u>တင်ပြလာသည့်အဆိုပြုလုပ်ငန်း ။</u>

(၁) ကုမ္ပဏီအမည် မြန်မာပိုက်(စ်) အင်(န်) အက်ဆက်ဆရီး(စ်) ကုမ္ပဏီလီမိတက်
Myanmar Pipes & Accessories Co, Ltd.

(၂) တင်ပြသည့်လုပ်ငန်း အမျိုးအစား ပိုက်နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်း ။

(၃) ကုမ္ပဏီမှတ်ပုံတင်ခွင့်ပြုသည့်နေ့ ၈.၁.၉၉ (၁၁၇၆ / ၁၉၉၈-၁၉၉၉)

(၄) ကုမ္ပဏီ၏သတ်မှတ်မတည်ငွေရင်း ကျပ် ၁၀၀,၀၀၀,၀၀၀ (ကျပ်တစ်ရာသန်းတိတိ)
ဖြစ်၍ ငွေကျပ် ၁၀,၀၀၀ (ကျပ်-တစ်သောင်းတိတိ) တန်အစုရှယ်ယာပေါင်း (၁၀,၀၀

(၅) အဆိုပြုသည့်လုပ်ငန်း အတွက် မတည်ငွေရင်း ၁၃၁.၂ သန်း

(၆) ဒါရိုက်တာများ၏အမည်စာရင်း

(၁) ဦးသိန်းဟန် — မန်နေးဂျင်းဒါရိုက်တာ

(၂) ဒေါ်ခင်သီ — ဒါရိုက်တာ

[illegible]

[illegible]

[illegible]

[illegible] 5/12

# မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်

အမှတ် ၅၀၊ ရှမ်းကုန်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

MYANMAR PIPES & ACCESSORIES CO., LTD. ★

ရက်စွဲ။ ။ 04 MAY 1999

အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခြင်း။

ရန်ကုန်မြို့၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၁)၊ ယောမင်းကြီးဦးဘိုးလှိုင်လမ်း၊ ရှိမြေတွင် ကျွန်တော်များ မြန်မာ ပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်မှပလပ်စတစ်ပိုက်အမျိုးမျိုးနှင့် ပလပ်စတစ် အသုံးအဆောင် ပစ္စည်းများ ထုတ်လုပ်ရန် ရင်းနှီးမြှုပ်နှံခွင့် ပြုပါရန် အဆိုပြုလွှာ ပုံစံ (မနသ -၁) နှင့် နောက်ဆက်တွဲများဖြင့် ( ၂၅ ) စောင် တင်ပြအပ်ပါသည်။

MANAGING DIRECTOR
MYANMAR PIPES & ACCESSORIES CO., LTD.

ဦးသိန်းဟန်
မန်နေးဂျင်း ဒါရိုက်တာ
မြန်မာ ပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီလီမိတက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01-282101

တယ်လီဖုန်း - ၂၇၂၉၁၂၊ ၂၇၂၁၅၉၊ ၂၇၂၄၉၁။

စာအမှတ်၊ ရက-၁/မ-၃၆၆/၉၇ (၁၁၈၃၅(က))

ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ မတ်လ ၄ ရက်

အကြောင်းအရာ။ ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။ မြန်မာပိုက်(ပ်)အင်(န်)အက်စက်စရီး(စ်)ကုမ္ပဏီ လီမိတက်၏ ၂၅-၂-၉၉ ရက်စွဲပါစာ။

၁။ မြန်မာပိုက်(ပ်)အင်(န်)အက်စက်စပိုး(စ်)ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊ လှိုင်သာယာစက်မှုဇုံ(၁)၊ ယောမင်းကြီး ဦးဘိုး လှိုင်လမ်း၊ မြေကွက်အမှတ် ၆(က)၊ ၆(ခ) ရှိ မြေ(၁,၁၄၁) ကေနှင့်(၁,၃၀၀) ကေတို့ကို ငှါးရမ်း၍ စက်ရုံတည်ဆောက်ပြီး ပလပ်စတစ်ပိုက်နှင့်အလားတူပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အထက်ရည်ညွှန်းပါစာဖြင့်၍ ကော်မရှင်သို့တင်ပြ လျှောက်ထားလာပါသည်။ (ပူးတွဲ)

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ်၁၁ပါပြဋ္ဌာန်းချက်များနှင့်အညီအဆိုပြုချက်ကိုစိစစ်ရာတွင်သက်ဆိုင်ရာအဖွဲ့အစည်းများ၏သဘောထားများကိုတောင်းခံရယူရန်လိုအပ်ပါသဖြင့်အဆိုပြုချက်ပါလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာ နှင့်စပ်လျဉ်း၍သဘောထားမှတ်ချက်ပြန်ကြားပေးပါရန်နှင့်ယင်း နေရာတွင်အဆိုပြုလုပ်ငန်း ဆောင်ရွက်နေခြင်းရှိ-မရှိပြန်ကြားပေးပါရန်ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

တွဲဖက်အတွင်းရေးမှူး(ကိုယ်စား)

(စိုးဝင်း၊ ညွှန်ကြားရေးမှူး)

မြေယာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန။

ပူးတွဲ၊ -

(၁) အဆိုပြုချက်

(၂) မြေအဆောက်အထား

ဝင်း/ *

# မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီလီမိတက်

အမှတ်၅၀၊ ရှမ်းကုန်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း ။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ၁၉၉၉ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၃) ရက် ။

အကြောင်းအရာ ။ ။ ပလပ်စတစ်ပိုက်အမျိုးမျိုးနှင့် ပလပ်စတစ်အသုံးအဆောင်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းအတွက်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရခွင့်ပြုမိန့်ထုတ်ပေးပါရန်နှင့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန် အဆိုပြုလျှောက်ထားခြင်း ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ တရားဝင် မှတ်ပုံတင်ဖွဲ့စည်းတည်ထောင်ထားပြီးဖြစ်သည့် မြန်မာနိုင်ငံသားများပိုင်ဆိုင်သော မြန်မာပိုက်(စ်)အင်(န်) အက်စက်စရီး(စ်)ကုမ္ပဏီလီမိတက်သည် အစုရှယ်ယာရှင်များအမည်ပေါက်ပိုင်ဆိုင်သည့် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေကွက်အမှတ် (၆/က)၊ ဧရိယာအကျယ်အဝန်း(၁.၃၈၀)ဧကနှင့် မြေကွက်အမှတ် (၆/ခ)၊ ဧရိယာအကျယ်အဝန်း(၁.၁၄၁)ဧက၊ စုစုပေါင်း မြေဧရိယာအကျယ်အဝန်း (၂.၅၂၁) ဧကရှိ မြေပေါ်တွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ နိုင်ငံတကာအဆင့်မှီ ပလပ်စတစ်ပိုက်အအမျိုးမျိုးနှင့်ပလပ်စတစ်အသုံးအဆောင်ပစ္စည်းများထုတ်လုပ်ခြင်း လုပ်ငန်းကို ရင်းနှီးမြှုပ်နှံလုပ်ကိုင်ခွင့်ရရှိရေးအတွက် ခွင့်ပြုမိန့် (PERMIT)ထုတ်ပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလျှောက်ထားအပ်ပါသည်။

၂။ ကျွန်တော်တို့ကုမ္ပဏီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပလပ်စတစ်ပိုက်အမျိုးမျိုးနှင့်ပလပ်စတစ်အသုံးအဆောင်ပစ္စည်းများကိုခေတ်မီစက်ပစ္စည်းကိရိယာများ၊နည်းပညာရပ်များအသုံးပြု၍ ပြည်တွင်းပြည်ပသို့ဖြန့်ဖြူးရောင်းချရန် မတည်ရင်းနှီးငွေကျပ်သန်းပေါင်း (၁၂၁)သန်းရင်းနှီးမြှုပ်နှံ လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၃။ ကျွန်တော်တို့ကုမ္ပဏီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်ဆောင်ရွက်မည့်အဆိုပြုလုပ်ငန်းတွင်အသုံးပြုရန်လိုအပ်သောခေတ်မီစက်ပစ္စည်းကိရိယာများကို စင်္ကာပူနိုင်ငံ Mazda Plastic Factory Private Limited ထံမှ ရွှေ့ဆိုင်းငွေပေးချေခြင်း (Deferred Payment) သဘောတူစာချုပ်အရ ဝယ်ယူဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် အဆိုပြုလုပ်ငန်းမှရရှိသည့်နိုင်ငံခြားဝင်ငွေများဖြင့် ပြန်လည် ပေးဆပ်သွားမည်ဖြစ်ပါကြောင်း လေးစားစွာတင်ပြလျှောက်ထားအပ်ပါသည်။

၄။ ဤအဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးခြင်းဖြင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပေါ်ပေါက်လာခြင်း၊ ခေတ်မီနည်းပညာရပ်များတိုးပွားရရှိစေခြင်း၊ ပြည်တွင်းတွင် ဖြန့်ဖြူးရောင်းချခြင်းဖြင့် ပြည်ပမှ တင်သွင်းရန်မလိုအပ်တော့ဘဲ နိုင်ငံခြားငွေ

များ ယိုဖိတ်မှုမရှိစေခြင်း၊ ပြည်ပဈေးကွက်သို့ ထိုးဖောက်ဝင်ရောက်ရန် ဈေးကွက်များ ရရှိထားပြီးဖြစ်၍ နိုင်ငံတော်အတွင်းသို့နိုင်ငံခြားငွေများကိုပိုမိုစီးဝင်လာစေခြင်းစသည့်အကျိုးစီးပွားဖြစ်ထွန်းမှုများကြောင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပါပြဋ္ဌာန်းချက်များနှင့်အညီ ခွင့်ပြုမိန့် (PERMIT) ထုတ်ပေးပါရန် လေးစားစွာ လျှောက်ထားအပ်ပါသည်။

၅။ ကျွန်တော်တို့ကုမ္ပဏီ၏အဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းများဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ (၁၂)နှင့် (၁၃) ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုပါရန် လေးစားစွာ တင်ပြ လျှောက်ထားအပ်ပါသည်။

၆။ ဤအဆိုပြုလွှာနှင့်အတူ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်နှင့်တကွ ပူးတွဲပါ အထောက်အထား စာရွက်စာတမ်းများကိုတင်ပြလျှောက်ထားအပ်ပါသည်။

MYANMAR PIPES & ACCESSORIES CO., LTD.

လေးစားစွာဖြင့်

MANAGING DIRECTOR
MYANMAR PIPES & ACCESSORIES CO., LTD.

ဦးသိန်းဟန်
မန်နေးဂျင်း ဒါရိုက်တာ
မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်
၅၀၊ ရှမ်းကုန်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း။

# မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်

အမှတ် ၅၀၊ ရှမ်းကုန်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။၁၉၉၉ ခုနှစ်၊ မတ်လ ( ၃ )ရက်

အကြောင်းအရာ။ ။ ပလပ်စတစ်ပိုက် အမျိုးမျိုး နှင့် ပလပ်စတစ် အသုံးအဆောင်ပစ္စည်းများ ထုတ်လုပ်သည့် စက်မှုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ကတိဝန်ခံချက် တင်ပြခြင်း။

အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံတွင် တရားဝင် ဖွဲ့စည်းတည်ထောင်ထားသည့် မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်သည် ခွင့်ပြုမိန့်ရရှိရေးအတွက် အောက်ပါတို့ကို ဝန်ခံကတိပြုပါသည် –

၁။ ဤအဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး၊ ဤလုပ်ငန်းတွင် နိုင်ငံခြားသား မည်သူတစ်ဦး တစ်ယောက်မျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊

၂။ ဤအဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ကုန်ချောပစ္စည်းများအတွက် ပြည်ပသို့ တင်ပို့ရောင်းချရန် ဈေးကွက်များရှိပြီး ဖြစ်ပါကြောင်း၊

၃။ မြေနှင့်စပ်လျဉ်း၍ နိုင်ငံတော်၏ တည်ဆဲမြေယာဥပဒေပါပြဋ္ဌာန်းချက်များ၊ စည်းကမ်းသတ်မှတ်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း၊

၄။ ဤအဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီးမှသာ စတင် ဆောင်ရွက်မည့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊

၅။ ဤအဆိုပြုလုပ်ငန်းအတွက်ရွှေဆိုင်းငွေပေးချေခြင်းသဘောတူစာချုပ်အရပြည်ပမှ ချေးငွေရယူခြင်းသည် နိုင်ငံတော်အစိုးရနှင့် သက်ဆိုင်ခြင်းမရှိဘဲ၊ လုပ်ငန်းဆောင်ရွက်သူတို့၏တာဝန်သာဖြစ်ပါကြောင်း၊

၆။ ဤအဆိုပြုလုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များမဖြစ်ပွားစေရန် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်ထားရှိမှုများကို တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စနစ်တကျ အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

MANAGING DIRECTOR
MYANMAR PIPES & ACCESSORIES CO., LTD.

ဦးသိန်းဟန်
မန်နေးဂျင်း ဒါရိုက်တာ
မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်
၅၀၊ ရှမ်းကုန်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း။

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
# (ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ မတ်လ ( ၃ )ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏–

| | | |
|---|---|---|
| (က) | အမည် | ဦးသိန်းဟန် |
| (ခ) | အဖအမည် | ဦးမောင်မောင်သန်း |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ဘီ/အာရ်ဂျီအင်(န်) ၀၂၃၄၈၅ |
| (ဃ) | နေရပ်လိပ်စာ | ၁၀၅/၇၊ သံလွင်လမ်း၊ ကမာရွတ်မြို့နယ် ရန်ကုန်တိုင်း။ |
| (င) | လူမျိုး၊ ဘာသာ | မြန်မာ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | မြန်မာ ပိုက်(စ်)အင်(န်)အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | ပိုက်အမျိုးမျိုးနှင့် ပလပ်စတစ် အသုံးအဆောင်ပစ္စည်းများထုတ်လုပ်ခြင်း |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ် ၅၀၊ ရှမ်းကုန်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း။ |

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါကဖက်စပ်ပြုလုပ်မည့်သူများ၏–

| | | | |
|---|---|---|---|
| (က) | အမည် | (၁) – | (၂) – |
| (ခ) | အဖအမည် | (၁) – | (၂) – |
| (ဂ) | နိုင်ငံသား/အမျိုးသား မှတ်ပုံတင်အမှတ် | (၁) – | (၂) – |
| (ဃ) | နေရပ်လိပ်စာ | (၁) – | (၂) – |
| (င) | လူမျိုး၊ ဘာသာ | (၁) – | (၂) – |
| (စ) | အဖွဲ့အစည်းအမည် | – | |
| (ဆ) | လုပ်ငန်းအမျိုးအစား | – | |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | – | |

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါကသီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား–

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း: ပိုက်အမျိုးမျိုးနှင့်ပလပ်စတစ် အသုံးအဆောင် ပစ္စည်းများ ထုတ်လုပ်ခြင်း

(ခ) ဝန်ဆောင်မှုလုပ်ငန်း: –

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း –

(ခ) အဖွဲ့အစည်း နှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း –

(ဂ) အဖွဲ့အစည်း နှင့်အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း –

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်–

(က) တစ်ဦးတည်းပိုင် –

(ခ) ဖက်စပ် / အစုစပ်လုပ်ငန်း –

(ဂ) လီမိတက်ကုမ္ပဏီ အများနှင့်မသက်ဆိုင်သည့် လီမိတက်ကုမ္ပဏီ

(ဃ) သမဝါယမအသင်း

(အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ထည့်ဝင်မည့်မတည်ရင်းနှီးငွေရင်း အချိုးအစား၊စီမံခန့်ခွဲသူ/ စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်) **နောက်ဆက်တွဲ (၁)**

၆။ ဖက်စပ် / အစုစပ်လုပ်ငန်း ဖြစ်ပါက–

(က) အစုစပ်တို့ကထည့်ဝင်မည့်အစုငွေ အချိုးအစားနှင့် ပမာဏ –

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား –

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ –

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း / လီမိတက်ကုမ္ပဏီဖြစ်ပါက–

(က) ခွင့်ပြုမတည်ငွေရင်း: ကျပ် ၁၀၀,၀၀၀,၀၀၀/–

(ခ) အစုရှယ်ယာအမျိုးအစား: ကျပ်တစ်သောင်းတန် သာမန်အစုရှယ်ယာ ပေါင်း ၁၀,၀၀၀ စု

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ

| | | |
|---|---|---|
| ဦးသိန်းဟန် | ရှယ်ယာ ၅,၀၀၀ စု | ကျပ် ၅၀,၀၀၀,၀၀၀/– |
| ဒေါ်သီသီ | ရှယ်ယာ ၅,၀၀၀ စု | ကျပ် ၅၀,၀၀၀,၀၀၀/– |

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ–

(က) မတည်ငွေရင်းပမာဏ (ကျပ်)

| | | | |
|---|---|---|---|
| (၁) | ငွေပမာဏ<br>**နောက်ဆက်တွဲ (က)** | ကျပ် | ၄၉,၀၀၀,၀၀၀/– |
| (၂) | စက်ပစ္စည်းကိရိယာများ (ပြည်ပ)<br>တန်ဖိုးပမာဏ<br>**(နောက်ဆက်တွဲ က–၁)** | ကျပ် | ၉,၄၀၈,၀၀၀/– |
| (၃) | အဆောက်အအုံများ (ပြည်ပ)<br>**(နောက်ဆက်တွဲ က–၁)** | ကျပ် | ၁,၂၀၀,၀၀၀/– |
| | (ပြည်တွင်း) | ကျပ် | ၅၀,၀၀၀,၀၀၀/– |
| (၄) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ<br>တန်ဖိုးပမာဏ | ကျပ် | ၁,၀၀၀,၀၀၀/– |
| (၅) | ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (ပြည်ပ)<br>**(နောက်ဆက်တွဲ က–၂)** | ကျပ် | ၁၀,၁၉၃,၁၀၀/– |
| | | | ------------ |
| | | ကျပ် | ၁၂၀,၈၀၁,၁၀၀/– |
| | | | ============= |

(ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့်

| | | **ကျပ်** | **အမေရိကန်ဒေါ်လာ** |
|---|---|---|---|
| (၁) | စက်ပစ္စည်းများ၊ စက်ကိရိယာများ<br>စသည့်ပစ္စည်းတို့၏တန်ဖိုးပမာဏ<br>**(နောက်ဆက်တွဲ က–၁)** | ၁၀,၆၀၈,၀၀၀/– | ၁,၇၆၈,၀၀၀/– |
| (၂) | ကုန်ကြမ်းပစ္စည်းများနှင့်အခြား<br>အလားတူပစ္စည်းများ၏တန်ဖိုး<br>**(နောက်ဆက်တွဲ က–၂)** | ၁၀,၁၉၃,၁၀၀/– | ၁,၆၉၈,၈၅၀/– |
| (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏<br>တန်ဖိုးပမာဏ | – | – |
| | | ----------- | ----------- |
| | | ၂၀,၈၀၁,၁၀၀/– | ၃,၄၆၆,၈၅၀/– |
| | | =========== | =========== |

နိုင်ငံခြားငွေလိုအပ်မှုကို Mazda Plastic Factory Private Limited မှ ပထမငါးနှစ်အတွင်း အတိုးမဲ့ဆိုင်းငံကာလဖြင့်၄င်း၊ နောက်ထပ် အနှစ် (၁၅)အား တနှစ်လျှင် ၈% အတိုးဖြင့် Deferred Payment စနစ်ဖြင့် ဆောင်ရွက်သွားပါမည်။
**(နောက်ဆက်တွဲ ခ)**

| | | |
|---|---|---|
| (ဂ) | တည်ဆောက်မှုကာလ | ၁၂ လ |
| (ဃ) | ပဏာမ အစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ | ခွင့်ပြုမိန့် ရရှိပြီး ၁ လ အတွင်း |
| (င) | တည်ဆောက်မှုစတင်မည့်အချိန် | ခွင့်ပြုမိန့် ရရှိပြီး ၂ လ အတွင်း |

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား: ပိုက်အမျိုးမျိုးနှင့်ပလပ်စတစ်အသုံးအဆောင်ပစ္စည်းများ ထုတ်လုပ်ခြင်း။

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ: ရန်ကုန်မြို့၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ(၁)၊ တွင်ရှိ အမှတ် ၆/ခ မြေ (၁.၁၄၁)ဧက နှင့် အမှတ် ၆/က မြေ (၁.၃၈၀) ဧကရှိ မြေကွက်

(ဂ) ဆောင်ရွက်ပုံနည်းစနစ်
- (၁) Pipeများကို Computerized Extrusion Method ဖြင့်၄င်း
- (၂) Bottle & Household goods များကို Plastic Blow Moulding Method ဖြင့်၄င်း
- (၃) Film & Profile များကို Calendering Moulding Method ဖြင့်၄င်း

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်-

| အမျိုးအစား | အရေအတွက် |
|---|---|
| (၁) ဒီဇယ်ဆီ | ၁၄,၀၀၀ ဂါလံ |
| (၂)Funace Oil | ၅,၀၀၀ ဂါလံ |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| (၁) လျှပ်စစ်ဓါတ်အား: | ၂၀၀ KVA |
| (၂) ဓါတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား: | ၂၀၀ KVA |
| (၃) ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား: | - |
| (၄) သဘာဝဓါတ်ငွေ့သုံးစက်အား: | - |
| (၅) ပေးပို့သည့်အခြားအား: (ရေအား/လေအား စသည်များ) | - |

(စ) နှစ်စဉ်ရေလိုအပ်ချက် ၁၀,၀၀၀ ဂါလံ
(နေ့စဉ်ရေလိုအပ်ချက် ရှိလျှင်ဖော်ပြရန်)

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် **နောက်ဆက်တွဲ (ဂ)**

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး: ကျပ် |
|---|---|---|---|
| ၁။ အဓိကကုန်ကြမ်း: | | | |
| (၁) - | - | - | - |
| (၂) - | - | - | - |
| ၂။ အထောက်အကူကုန်ကြမ်း: | | | |
| (၁) - | - | - | - |
| (၂) - | - | - | - |
| ၃။စက်သုံးဆီ/ဓါတ်ငွေ့များ:- | | | |
| (၁) - | - | - | - |
| (၂) - | - | - | - |

(ဈ) အဆောက်အအုံလိုအပ်ချက် (၁) ပေ ၁၈၀ x ပေ ၁၀၅ တစ်ထပ်အဆောက်အအုံ (၁) လုံး
(၂) ပေ ၃၀ x ပေ ၁၀၅ နှစ်ထပ်အဆောက်အအုံ (၁) လုံး
(၃) ပေ ၁၈၇.၅ x ပေ ၉၇.၅ တစ်ထပ်အဆောက်အအုံ (၁) လုံး
(၄) ပေ ၆၂.၅ x ပေ ၄၇ သုံးထပ်အဆောက်အအုံ (၁) လုံး

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက် စက်မှုဇုန်မြေ
စုစုပေါင်း ၂.၅၂၁ ဧက

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း **နောက်ဆက်တွဲ (ဃ)**

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| -------- | ------ | -------- | ----- |
| -------- | ------ | -------- | ----- |

(ဋ) ရောင်းချမည့်စနစ် နှစ်စဉ် အဓိက ကုန်ထုတ်လုပ်မှု၏ ၆၀% ကို ပြည်တွင်း ကျပ်ငွေဖြင့်ရောင်းချ၍ နှစ်စဉ် အဓိက ကုန်ထုတ်လုပ်မှု၏ ၄၀%အား ပြည်ပသို့ နိုင်ငံခြားငွေဖြင့် ရောင်းချပါမည်။

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | **နောက်ဆက်တွဲ (င)** | |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | **နောက်ဆက်တွဲ (စ)** | |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေ ပမာဏ | **နောက်ဆက်တွဲ (ဃ)** | |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | **နောက်ဆက်တွဲ (ဃ)** | |
| (င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | **နောက်ဆက်တွဲ (ဃ)** | |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ- **နောက်ဆက်တွဲ (ဆ)**

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| ------------- | ---------- |
| ------------- | ---------- |

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့်အတတ်ပညာရှင်များ

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|
| အင်ဂျင်နီယာ | ၂ | တဦးလျှင် ၆လစီ |

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့်စပ်လျဉ်းသော အချက်အလက်များ–

| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | **နောက်ဆက်တွဲ (စ)** | |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | **နောက်ဆက်တွဲ (စ)** | |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | **နောက်ဆက်တွဲ (စ)** | |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | **နောက်ဆက်တွဲ (က)** | |
| (င) | အရင်းကျေကာလ | **နောက်ဆက်တွဲ (ဇ)** | |
| (စ) | အခြားအကျိုးအမြတ်များ | **နောက်ဆက်တွဲ (ဈ)** | |
| (ဆ) | အလုပ်အကိုင်အသစ်များပေါ်ပေါက်လာမည့်အခြေအနေ | **နောက်ဆက်တွဲ (ဆ)** | |

အလုပ်အကိုင်သစ် (၁၄၇)ဦး ပေါ်ပေါက်လာပါမည်။

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့်စပ်လျဉ်း၍ အထောက်အထားများ၊ အဆိုပြုတင်ပြသည့်ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက်အောက်ဖော်ပြပါ အထောက်အထားများကိုပူးတွဲတင်ပြအပ်ပါသည်။

(က) အခမဲ့မြေငှားရမ်းခြင်းဆိုင်ရာ ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း **(နောက်ဆက်တွဲ – ၂)**

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးပိုင်းဆိုင်ရာ အထောက်အထားများ၊ **(နောက်ဆက်တွဲ – ၃)**

(ဂ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်း၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ **(နောက်ဆက်တွဲ – ၄)**

MYANMAR PIPES & ACCESSORIES CO., LTD.

MANAGING DIRECTOR
MYANMAR PIPES & ACCESSORIES CO., LTD.

လက်မှတ်၊

အမည်၊ ဦးသိန်းဟန်

ရာထူး၊ မန်နေးဂျင်း ဒါရိုက်တာ

လိပ်စာ၊ ၅၀၊ ရှမ်းကုန်းလမ်း၊
စမ်းချောင်းမြို့နယ်၊
ရန်ကုန်တိုင်း။

နောက်ဆက်တွဲ (၁)

# မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်

(၁) **စီမံခန့်ခွဲသူ / စီမံခန့်ခွဲမည့်သူ**

| | အမည် | နေရပ်လိပ်စာ | ရာထူး | ပါဝင်မှုအချိုး |
|---|---|---|---|---|
| (၁) | ဦးသိန်းဟန်<br>မြန်မာ<br>ဘီ/အာရ်ဂျီအင်(န်)<br>၀၂၃၄၈၅ | အမှတ် ၁၀၅/၇၊ သံလွင်လမ်း၊<br>ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်း။ | မန်နေးဂျင်း<br>ဒါရိုက်တာ | ၅၀% |
| (၂) | ဒေါ်သီသီ<br>မြန်မာ<br>အယ်လ်အမ်ဒီဒဗလျူ<br>၀၀၀၅၃၄ | အမှတ် ၂၅ ဒီ(၁)၊<br>တက္ကသိုလ်ရိပ်သာလမ်းသစ်၊<br>ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်း။ | ဒါရိုက်တာ | ၅၀% |

နောက်ဆက်တွဲ (က)

# MYANMAR PIPES & ACCESSORIES COMPANY LIMITED

မတည်ငွေရင်း ပမာဏ

| | | ကျပ် | US$ |
|---|---|---|---|
| (က) | ၁၉၉၉–၂၀၀၀ ခုနှစ် | | |
| ၁ | ငွေ ပမာဏ | 49,000,000 | |
| ၂ | စက်ပစ္စည်း ကရိယာ (ပြည်ပ) (အသေးစိတ် စာရင်းပူးတွဲ) | 9,408,000 | 1,568,000 |
| ၃ | အဆောက်အဦး (ပြည်တွင်း) | 50,000,000 | |
| ၄ | အဆောက်အဦး (ပြည်ပ) (အသေးစိတ် စာရင်းပူးတွဲ) | 1,200,000 | 200,000 |
| ၅ | ပရိဘောဂ နှင့် လုပ်ငန်းသုံး | 1,000,000 | |
| ၆ | ကုန်ကြမ်းပစ္စည်းတန်ဘိုး (ပြည်ပ) (အသေးစိတ်စာရင်းပူးတွဲ) | 10,193,100 | 1,698,850 |
| | | 120,801,100 | 3,466,850 |

နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့် ငွေရင်းပမာဏ တန်ဘိုး

| | | ကျပ် | US$ |
|---|---|---|---|
| ၁ | စက်ပစ္စည်း ကရိယာ တန်ဘိုး (အသေးစိတ် စာရင်းပူးတွဲ) | 9,408,000 | 1,568,000 |
| ၂ | အဆောက်အဦး (ပြည်ပ) (အသေးစိတ် စာရင်းပူးတွဲ) | 1,200,000 | 200,000 |
| ၃ | ကုန်ကြမ်းပစ္စည်းတန်ဘိုး (ပြည်ပ) (အသေးစိတ်စာရင်းပူးတွဲ) | 10,193,100 | 1,698,850 |
| | | 20,801,100 | 3,466,850 |

နောက်ဆက်တွဲ ( က-၁ )

# MYANMAR PIPES & ACCESSORIES COMPANY LIMITED

## LIST OF MACHINERY AND EQUIPMENT

(US$)

| No. | Particular | Unit | Qty | Rate | Value |
|---|---|---|---|---|---|
| 1 | Blow Moulding Machine | Unit | 3 | 60,000 | 180,000 |
| 2 | Injection Moulding Machine | Unit | 3 | 60,000 | 180,000 |
| 3 | Plastic Moulding Machine | Unit | 2 | 40,000 | 80,000 |
| 4 | Pipe Extrusion Line | Unit | 2 | 100,000 | 200,000 |
| 5 | Mixer | Unit | 3 | 20,000 | 60,000 |
| 6 | Water Cooling Tank | Unit | 2 | 10,000 | 20,000 |
| 7 | Extruder | Unit | 3 | 60,000 | 180,000 |
| 8 | Water Chiller | Unit | 5 | 4,000 | 20,000 |
| 9 | Water Treatment Plant | Unit | 4 | 12,000 | 48,000 |
| 10 | Pump | Nos | 10 | 200 | 2,000 |
| 11 | Motor H.P 10-200 | Nos | 10 | 200 | 2,000 |
| 12 | Generator 300KVA | Unit | 2 | 30,000 | 60,000 |
| 13 | Electrical Equipment | | | | |
| | Wire (various size) | Meters | 70000 | 1 | 70,000 |
| | Circuit Breaker | Nos | 3000 | 20 | 60,000 |
| | Starter | Nos | 300 | 100 | 30,000 |
| | Lamps & Bulbs | Nos | 8000 | 5 | 40,000 |
| 14 | Air Condition H.P 1.5-2.0 | Nos | 6 | 800 | 4,800 |
| 15 | Machine Accessories & Equipment | | | | |
| | Extruder Machine Spare Parts | | | | 70,000 |
| | Moulding Machine Spare Parts | | | | 111,200 |
| | Auto Conveyer & Auto Loading Equipment | | | | 30,000 |
| | Compressor & Winding Equipment | | | | 20,000 |
| 16 | Saloon Car | Unit | 1 | 18,000 | 18,000 |
| 17 | Wagon | Unit | 1 | 18,000 | 18,000 |
| 18 | Pick Up | Unit | 1 | 10,000 | 10,000 |
| 19 | Truck (2-3 ton) | Unit | 2 | 20,000 | 40,000 |
| 20 | Forklift | Unit | 4 | 3,500 | 14,000 |
| 21 | Construction Materials | | | | |
| | (a) M.S Rod (various sizes) | Ton | 800 | 200 | 160,000 |
| | (b) Cement | Ton | 1000 | 40 | 40,000 |
| | **Total US$** | | | | 1,768,000 |

ဤစာချုပ်ပါစကားရပ်များကိုသိရှိနားလည်ကြပြီးဖြစ်သဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့်အဆိုပါ ______ သည် ဤစာချုပ်ကိုအထက်ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့ - ချမ်းမြသာစည်

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် ဦးအုံးကျော် ______ ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ် ဦးစိုးလွင် ______ ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး ဦးတင်ဝင်း တို့
ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

______ ညွှန်ကြားရေးမှူး

**အသိသက်သေ။**

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) ဦးထွန်းလင်း

အငှားစာချုပ်ရသူ ______ က
လက်မှတ်ရေးထိုးသည်။

______ အငှားစာချုပ်ရသူ

**အသိသက်သေ။**

၁။ ______ AA010435 ၁၄ ______

၂။ ______

ဦးစိုးအရာရှိ
မြေနှင့်အခွန်ဌာနခွဲ
မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန အထက်တွင် ရည်ညွှန်းထားသည့် မယား
ဆောက်လုပ်ရေးဝန်ကြီးဌာန
ခွင့်ပြုပြီးမြေပုံဖြစ်သော လူနေရပ်ကွက်အမှတ် ______
မြေတိုင်းရပ်ကွက်အမှတ် ______
ရန်ကုန်မြို့ ______ မြို့နယ်။

အတွင်းရှိ ______ တန်းစား၊ မြေကွက်အမှတ် ______
ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ______ ပေ၊ အနံ ______ ပေခန့်ရှိသော အလား အလာ
အရှေ့လားသော် ______
အနောက်လားသော် ______
တောင်လားသော် ______
မြောက်လားသော် ______
အတွင်းရှိ မြေအားလုံး ဧရိယာ ______ ဧက၊ (စတုရန်းပေ ______)

2

WIZAYA · ASIA WEALTH BANK LTD. ·

Asia Wealth Bank Ltd WIZAYA BR

Corner of U Wizara Road & Damazedi Road.
Bahan Township, Yangon, Myanmar.
Phone No- 525152, 525213, 525212.

ACCOUNT NO. : 0031130000624

Name : MYANMAR PIPES&ACCESSORIES CO;
Address : NO.50,SHANKONE ST,SANCHAUNG TSP.

STATEMENT OF TRANSACTION FOR THE MONTH OF February, 1999

| Date | Description | Withdrawal Amount | Deposit amount | Balance |
|---|---|---|---|---|
| 22/02/1999 | By Cash | 0.00 | 5000.00 | 5000.00 |
| 23/02/1999 | By Transfer | 0.00 | 8000000.00 | 8005000:00 |
| 24/02/1999 | By Transfer | 0.00 | 7000000.00 | 15005000.00 |
| T O T A L | | 0 | 15005000.00 | |

Nos : Withdrawals = 0
Nos : Deposits = 3

For Asia Wealth Bank Ltd WIZAYA BR

Thank you for banking with Asia Wealth Bank Ltd WIZAYA BR

Please report any discrepancies found on your statement immediately.
N.B - Statement will not be sent unless if there is a change of transaction.

[signature]

Deputy Manager
11/10

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ........၁၁၇၆........ /၁၉၉၈ -၁၉၉၉

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ မြန်မာ ပိုက်(စ်) အင်(န်) အက်ဆက်ဆရီး (စ်) ကုမ္ပဏီ လီမိတက် ........ အား ပေးရန်တာဝန်ကန့်သတ်ထားသောလီမိတက်

ကုမ္ပဏီအဖြစ် ၁၉၉၉ ခုနှစ်၊ ဇန်နဝါရီ ....... လ ..၈.. ရက်နေ့တွင်မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

( သိင်္ဂီတင် )

ကုမ္ပဏီများမှတ်ပုံတင်အရာရှိ

ကုမ္ပဏီများမှတ်ပုံတင်ရုံး

စက်မှု/ထုတ်လုပ်မှု/ဆောက်လုပ်ရေး

INDUSTRIAL/PRODUCTION/CONSTRUCTION

* * *

**THE GOVERNMENT OF THE UNION OF MYANMAR**
**MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT**

# CERTIFICATE OF INCORPORATION

**No. ..........1176.......... of 1998 -1999**

*I here by certify that* MYANMAR PIPES & ACCESSORIES COMPANY LIMITED ........ *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* ....EIGHTH.... *day of* ....JANUARY.... *one thousand nine hundred and* ....NINETY NINE....

စက်ရုံ အလုပ်ရုံတည်ရှိရာ အရပ်သည်
စက်မှုလက်မှုဇုန်တွင်ဖြစ်စေရမည်။
သို့မဟုတ်လျှင် နေရပ်ကွက်နှင့်ကင်းလွတ်
ရာ အရပ်၌ဖြစ်စေရမည်။

( THEINGI TIN )

**Registrar of Joint Stock Companies**
**Companies Registration Office**

* လေး

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Presented by : U Thein Han

Name of Company : MYANMAR PIPES & ACCESSORIES COMPANY LIMITED

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| U Thein Han | Myanmar B/RGN 023485 | 105/7, Than Lwin Road, Kamayut Township, Yangon Division. | Merchant | Appointed as Managing Director w.e.f 22-2-99 |
| Daw Thi Thi | Myanmar LMDW 000534 | 25 D(1), New University Avenue Road, Bahan Township, Yangon Division. | Merchant | Appointed as Director w.e.f 22-2-99 |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes"by placing against the new Director's name the word "in place of ..................................." and by writing against any former Director's name the word "dead" "resigned"or as the case may be giving the date of change against the entry.

MYANMAR PIPES & ACCESSORIES CO. LTD.

Signature

Designation U Thein Han Managing Director

Dated this

## FORM VI

# RETURN OF ALLOTMENTS

## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 22 of February 199 9

on the of 19 of the * MYANMAR PIPES & ACCESSORIES CO., LTD

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 1500 Shares

" " " " .....

Nominal amount of the shares so allotted ..... K 15,000,000/-

" " " " .....

Amount paid or due and payable on each such share .... K 10,000/-

" " " "

Number of ordinary shares allotted for a consideration other than cash NIL

Nominal amount of the ordinary shares so allotted .... NIL

Amount to be treated as paid on each such share .... NIL

The consideration for which such share have been allotted is as folllows:- NIL

---

**NOTE:** In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the word made substituted for the word "From" after the word "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

MYANMAR PIPES & ACCESSORIES CO., LTD.

COMPANIES REGISTRATION OFFICE

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

**အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ**

# မြန်မာ ပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) **ကုမ္ပဏီ လီမိတက်**

၏

## သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

**ကုမ္ပဏီ၏** အမည်သည် "မြန်မာ ပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) **ကုမ္ပဏီ လီမိတက်**" ဖြစ်ပါသည်။

**ကုမ္ပဏီ၏** မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

**ကုမ္ပဏီ** တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းသည် ကျပ် ၁၀၀,၀၀၀,၀၀၀ /-(ကျပ်တစ်ရာသန်း တိတိ) ဖြစ်၍ ငွေကျပ်၁၀၀၀၀ /-(ကျပ်တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း (၁၀၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊

(ခ) ~~(ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊~~

(ဂ) ~~တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊~~

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊

(င) ~~ဓာတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊~~

(စ) ~~လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဇ) ~~ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

(ဈ) ~~လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊~~

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊

(ဋ) ~~စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

(ဌ) ~~လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

(ဍ) ~~ဆေးဝါးထုတ်လုပ်ခြင်း၊~~

(ဎ) ~~အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊~~

(၂) အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊တစ်စိတ်တစ်ဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

~~(၃) ဆောက်လုပ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန်နှင့် ယင်းလုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများနှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်။~~

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

**ခြွင်းချက်**။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ်။ | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးသိန်းဟန်<br>အမှတ် ၁၀၅/၇၊ သံလွင်လမ်း၊<br>ကမာရွတ်မြို့နယ်၊<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>ဘီ/အာရ်ဂျီအင်(န်)<br>၀၂၃၄၈၅ | ၂၀ | |
| ၂။ | ဒေါ်သီသီ<br>အမှတ် ၂၅၊ ဒီ(၁)၊<br>တက္ကသိုလ်ရိပ်သာလမ်းသစ်၊<br>ဗဟန်းမြို့နယ်၊<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>အယ်လ်အမ်ဒီဒဗလျူ<br>၀၀၀၅၃၄ | ၂၀ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၈ ခုနှစ်၊ ဒီဇင်ဘာ လ၊ ၄ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

တိုးနိုလင်း
ဘီကွမ်း၊ [illegible] ဒီအက်ဗ်အမ်
မှတ်ပုံတင် [illegible]
ဘဏ္ဍာရေး [illegible]

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

## အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ ပိုက်(စ်)အင်(န်)အက်စက်စရီး (စ်) ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၁ ၀ ၀ ၀ ၀ ၀ ၀ ၀ ၀ ၀ /-(ကျပ် တစ်ရာသန်း တိတိ) ဖြစ်၍ ငွေကျပ် ၁ ၀ ၀ ၀ ၀ /-(ကျပ် တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁ ၀ ၀ ၀ ၀ ) ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၅ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) ဦး သိန်း ဟန်

(၂) ဒေါ်သီသီ

(၃)

(၄)

(၅) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥပဒေပြဋ္ဌာန်းချက်များဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာ ဦးရေသတ်မှတ်ခြင်း တို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကို မဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေ အတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာ အားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ–

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်း သတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည် ပေးဆပ်ရန်အတွက် အာမခံများ ထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ် အားလုံးကို ဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

### နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသောစာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

### တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

### ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးသိန်းဟန်<br>အမှတ် ၁၀၅/၇၊ သံလွင်လမ်း၊<br>ကမာရွတ်မြို့နယ်၊<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>ဘီ/အာရ်ဂျီအင်(န်)<br>၀၂၃၄၈၅ | ၁၈ | |
| ၂။ | ဒေါ်သီသီ<br>အမှတ် ၂၅၊ ဒီ(၁)၊<br>တက္ကသိုလ်ရိပ်သာလမ်းသစ်၊<br>ဗဟန်းမြို့နယ်၊<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>အယ်လ်အမ်ဒီဗလျူ<br>၀၀၀၅၃၄ | ၁၀ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာ လ၊ ၄ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ထိန်လင်း၊
ဘီကွမ်း၊ ဘီအယ်လ်၊ [illegible]
မှတ်ပုံတင်စာရင်းကိုင် [illegible]
ဘဏ္ဍာရေးအကြံပေးပုဂ္ဂိုလ်

# မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီလီမိတက်

အမှတ်၅၀၊ ရှမ်းကုန်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း ။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ၁၉၉၉ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၃) ရက် ။

အကြောင်းအရာ ။ ။ ပလပ်စတစ်ပိုက်အမျိုးမျိုးနှင့် ပလပ်စတစ်အသုံးအဆောင်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းအတွက်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရခွင့်ပြုမိန့်ထုတ်ပေးပါရန်နှင့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန် အဆိုပြုလျှောက်ထားခြင်း ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ တရားဝင် မှတ်ပုံတင်ဖွဲ့စည်းတည်ထောင်ထားပြီးဖြစ်သည့် မြန်မာနိုင်ငံသားများပိုင်ဆိုင်သော မြန်မာပိုက်(စ်)အင်(န်)အက်စက်စရီး(စ်)ကုမ္ပဏီလီမိတက်သည် အစုရှယ်ယာရှင်များအမည်ပေါက်ပိုင်ဆိုင်သည့် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေကွက်အမှတ် (၆/က)၊ ဧရိယာအကျယ်အဝန်း(၁.၃၈၀)ဧကနှင့် မြေကွက်အမှတ် (၆/ခ)၊ ဧရိယာအကျယ်အဝန်း(၁.၁၄၁)ဧက၊ စုစုပေါင်း မြေဧရိယာအကျယ်အဝန်း (၂.၅၂၁) ဧကရှိ မြေပေါ်တွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ နိုင်ငံတကာအဆင့်မီ ပလပ်စတစ်ပိုက်အအမျိုးမျိုးနှင့်ပလပ်စတစ်အသုံးအဆောင်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကို ရင်းနှီးမြှုပ်နှံလုပ်ကိုင်ခွင့်ရရှိရေးအတွက် ခွင့်ပြုမိန့် (PERMIT)ထုတ်ပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလျှောက်ထားအပ်ပါသည်။

၂။ ကျွန်တော်တို့ကုမ္ပဏီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပလပ်စတစ်ပိုက်အမျိုးမျိုးနှင့်ပလပ်စတစ်အသုံးအဆောင်ပစ္စည်းများကိုခေတ်မီစက်ပစ္စည်းကိရိယာများ၊နည်းပညာရပ်များအသုံးပြု၍ ပြည်တွင်းပြည်ပသို့ဖြန့်ဖြူးရောင်းချရန် မတည်ရင်းနှီးငွေကျပ်သန်းပေါင်း (၁၂၁)သန်းရင်းနှီးမြှုပ်နှံလုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၃။ ကျွန်တော်တို့ကုမ္ပဏီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်ဆောင်ရွက်မည့်အဆိုပြုလုပ်ငန်းတွင်အသုံးပြုရန်လိုအပ်သောခေတ်မီစက်ပစ္စည်းကိရိယာများကို စင်္ကာပူနိုင်ငံ Mazda Plastic Factory Private Limited ထံမှ ရွှေ့ဆိုင်းငွေပေးချေခြင်း (Deferred Payment) သဘောတူစာချုပ်အရ ဝယ်ယူဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် အဆိုပြုလုပ်ငန်းမှရရှိသည့်နိုင်ငံခြားဝင်ငွေများဖြင့် ပြန်လည် ပေးဆပ်သွားမည်ဖြစ်ပါကြောင်း လေးစားစွာတင်ပြလျှောက်ထားအပ်ပါသည်။

၄။ ဤအဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးခြင်းဖြင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပေါ်ပေါက်လာခြင်း၊ ခေတ်မီနည်းပညာရပ်များတိုးပွားရရှိစေခြင်း၊ ပြည်တွင်းတွင် ဖြန့်ဖြူးရောင်းချခြင်းဖြင့် ပြည်ပမှ တင်သွင်းရန်မလိုအပ်တော့ဘဲ နိုင်ငံခြားငွေ

များ ယိုဖိတ်မှုမရှိစေခြင်း၊ ပြည်ပဈေးကွက်သို့ ထိုးဖောက်ဝင်ရောက်ရန် ဈေးကွက်များ ရရှိထားပြီးဖြစ်၍ နိုင်ငံတော်အတွင်းသို့နိုင်ငံခြားငွေများကိုပိုမိုစီးဝင်လာစေခြင်းစသည့်အကျိုးစီးပွားဖြစ်ထွန်းမှုများကြောင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပါပြဋ္ဌာန်းချက်များနှင့်အညီ ခွင့်ပြုမိန့် (PERMIT) ထုတ်ပေးပါရန် လေးစားစွာ လျှောက်ထားအပ်ပါသည်။

၅။ ကျွန်တော်တို့ကုမ္ပဏီ၏အဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းများဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ (၁၂)နှင့် (၁၃) ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုပါရန် လေးစားစွာ တင်ပြ လျှောက်ထားအပ်ပါသည်။

၆။ ဤအဆိုပြုလွှာနှင့်အတူမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်နှင့်တကွ ပူးတွဲပါ အထောက်အထား စာရွက်စာတမ်းများကိုတင်ပြလျှောက်ထားအပ်ပါသည်။

MYANMAR PIPES & ACCESSORIES CO., LTD.

လေးစားစွာဖြင့်

ဦးသိန်းဟန်
မန်နေးဂျင်း ဒါရိုက်တာ
မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်
၅၀၊ ရှမ်းကုန်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း။

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01- 282101

တယ်လီဖုန်း - ၂၇၂၈၁၂၊ ၂၇၂၁၅၉၊ ၂၇၂၃၉၁။


စာအမှတ်၊ ၇၈-၁/မ-၃၆၆/၉၇ (ခ၁ဂနှ၃(စ))

ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ မတ်လ ၄ ရက်

အကြောင်းအရာ။ ။ <u>သဘောတူ မှတ်ချက် တောင်းခံခြင်း ကိစ္စ</u>။

ရည်ညွှန်းချက်။ ။ မြန်မာပိုက်(ပ်)အင်(န်)အက်စက်စရီး(စ်)ကုမ္ပဏီလီမိတက်၏ ၂၅-၂-၉၉ ရက်စွဲပါစာ။

၁။ မြန်မာပိုက်(ပ်)အင်(န်)အက်စက်စရီး(စ်)ကုမ္ပဏီလီမိတက် (Myanmar Pipes & Accessories Co., Ltd. ) မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ(၁)၊ မြေကွက်အမှတ် ၆(က)နှင့် ၆(ခ)ရှိ မြေ(၁.၁၄၁)ဧကနှင့်(၁.၃၈၀)ဧကတို့ကို ငှါးရမ်း၍ စက်ရုံတည်ဆောက်ပြီး ပလတ်စတစ်ပိုက်နှင့်အလားတူပစ္စည်းများထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အထက်ရည်ညွှန်းပါစာဖြင့် ဤကော်မရှင်သို့ တင်ပြလျှောက်ထားလာပါသည်။ (မူတွဲ)

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ်၁၁ ပါပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါသဖြင့် အဆိုပြုချက်ပါလုပ်ငန်းနှင့်စပ်လျဉ်း၍ အမှတ်(၁) စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

တွဲဖက်အတွင်းရေးမှူး (ကိုယ်စား)
(စိုးဝင်း၊ ညွှန်ကြားရေးမှူး)

<u>အမှတ်(၁)စက်မှုဝန်ကြီးဌာန</u>။

မူတွဲ။ - (၁) အဆိုပြုချက်
(၂) ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှုဇယားများ
(၃) Supplier's Credit Loan Agreement (Draft)
(၄) မြေငှါးရမ်းခြင်း သဘောတူစာချုပ်
(၅) ငွေရေးကြေးရေး အထောက်အထား

ဝင်း/ ။

- ကော်မရှင် -

၃.၆၉

စာအမှတ်၊ ဂုက - ၁/မ - ၃၆၆/၉၈ (

ရက်စွဲ ၁၉၉၉ ခုနှစ်၊ မတ်၊ လ ၃ ရက်

အကြောင်းအရာ။ "သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ"

ရည်ညွှန်းချက်။ "မြန်မာပိုက်(စ်) အင်(န်) အက်ဆက်ဆရီ(စ်) ကုမ္ပဏီလီမိတက်" ၏ ၂၅.၂.၉၉ ရက်စွဲပါစာ။

၁။ မြန်မာပိုက်(စ်)အင်(န်)အက်ဆက်ဆရီ(စ်)ကုမ္ပဏီလီမိတက် (Myanmar Pipes & Accessories Co., Ltd) မှ ညှိနှိုင်း နိုင်ငံသားတို့ ပူးပေါင်းဆောင်ရွက်မှု (၁)၊ ကြေငြာချက်အမှတ်၊ ၆(က)နှင့် ၆(ခ)တို့ရှိ မြေ (၁.၁၄၁) ဧက နှင့် (၁.၃၈၀) ဧကတို့ကို ငှားရမ်း၍ စက်ရုံတည်ဆောက် ပြီး ပလပ်စတစ်ပိုက်နှင့် အသားတူပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အထက်ရည်ညွှန်း ပါစာဖြင့် ကျေးဇူးကော်မရှင်သို့ တင်ပြလျှောက်ထားလာပါသည်။ ( ပူးတွဲ )

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်း များ အခန်း (၃)၊ အပိုဒ် ၁၁ ပါ ပြဋ္ဌာန်းချက်နှင့်အညီ အသိပေးချက်ကို စိစစ်ရာ တွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရမည်ဖြစ်ကို အပ်ပါသဖြင့် အသိပေးချက်ပါ လုပ်ငန်းနှင့်စပ်လျဉ်း၍ အမှတ်(၁) စက်မှုဝန်ကြီးဌာန ၏ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မေတ္တာရပ်ခံ အပ်ပါသည်။

တွဲဖက်အတွင်းရေးမှူး (ကိုယ်စား)
(စိစိဝင်း၊ ညွှန်ကြားရေးမှူး)

အမှတ်(၁) စက်မှုဝန်ကြီးဌာန

ပူးတွဲ-
(၁) အသိပေးချက်
(၂) ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များနှင့် ပတ်သက်သည့်တွက်ချက်မှုဇယားများ
(၃) Supplier's Credit Loan Agreement (Drag
(၄) မြေငှားရမ်းခြင်း သဘောတူစာချုပ်
(၅) ငွေရေးကြေးရေး အထောက်အထား

၇။ ကုမ္ပဏီ၏ ငွေကြေးဆိုင်ရာ အထောက်အထားများနှင့် ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းအား ပူးတွဲတင်ပြပါသည်။

၈။ ကျွန်တော်များအနေဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ (၁၂) နှင့် (၁၃) ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုပါရန်နှင့် ကုန်သွယ်လုပ်ငန်းခွင် ကင်းလွတ်ခွင့် နှင့် သက်သာခွင့် ပြုပါရန် တင်ပြပါသည်။

ဦးဆိုန်းဟန်
မန်းနေးဂျင်း ဒါရိုက်တာ
မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်

8110
၂၅.၁.၇၇

# မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်

အမှတ် ၅၀၊ ရှမ်းကုန်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ၁၉၉၉ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၅)

အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခြင်း။

ရန်ကုန်မြို့၊ လှိုင်သာယာ စက်မှုဇုန် (၁)၊ ယောမင်းကြီး ဦးဘိုးလှိုင်လမ်း၊ လှိုင်သာယာမြို့နယ် မြေတွင် ကျွန်တော်များ မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်မှပလပ်စတစ်ပိုက်နှင့် အလားတူ ပစ္စည်းများ ထုတ်လုပ်ရန် ရင်းနှီးမြှုပ်နှံခွင့် ပြုပါရန် အဆိုပြုလွှာ ပုံစံ (မနသ -၁) နှင့် နောက်ဆက်တွဲများဖြင့် ၁၅စောင် တင်ပြအပ်ပါသည်။

ဦးသိန်းဟန်
မန်နေးဂျင်း ဒါရိုက်တာ
မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်

## မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်

အမှတ် ၅၀၊ ရှမ်းကုန်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ၁၉၉၉ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၃)

အကြောင်းအရာ။ ။ ရန်ကုန်မြို့၊ လှိုင်သာယာမြို့နယ် စက်မှုဇုန် (၁)၊ မြေပေါ်တွင် ကျွန်တော်များ မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်မှပလပ်စတစ်ပိုက်နှင့် အလားတူ ပစ္စည်းများ ထုတ်လုပ် တည်ဆောက် ခွင့် ပြုပါရန်။

၁။ ရန်ကုန်မြို့၊ လှိုင်သာယာမြို့နယ် စက်မှုဇုန် (၁)၊ မြေပေါ်တွင် ကျွန်တော်များ မြန်မာပိုက်(စ်) အင်(န်) အက်စက်စရီး(စ်) ကုမ္ပဏီ လီမိတက်မှ ပလပ်စတစ်ပိုက်နှင့် အလားတူ ပစ္စည်းများ ထုတ်လုပ် တည်ဆောက် ရင်းနှီးမြှုပ်နှံခွင့် ပြုပါရန် အဆိုပြုတင် ပြအပ်ပါသည်။

၂။ ဤလုပ်ငန်းသည်–

(က) မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ကြောင်းနှင့်

(ခ) နိုင်ငံခြားသား မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

၃။ တည်ဆောက်မည့် မြေကြီးကို အစုရှယ်ယာရှင်များ ပိုင်သည့် မြေကြီးဖြစ်ပါ၍ ၎င်းတို့ထံငှားရမ်းပါမည်။ မြေငှားရမ်းခြင်းနှင့် ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၄။ ထုတ်လုပ်ရောင်းချသော ပိုက်နှင့် အလားတူ ပစ္စည်းများ မှာမိမိ၏ ကိုယ်ပိုင် အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်ရောင်းချမည်ဖြစ်ပြီး ၎င်းအတွက် စင်္ကာပူနိုင်ငံနှင့် အရှေ့တောင် အာရှ နိုင်ငံများသို့ လည်းရောင်းချရန်အသင့်ရှိပါသည်။

၅။ နိုင်ငံခြားငွေရင်းနှီးမြှုပ်နှံမှု US$ ၅,၂၀၀,၀၀၀ ကိုစင်္ကာပူနိုင်ငံ Mazda Plastic Factory Private Limited မှ SUPPLIERS' CREDIT စနစ်ဖြင့် ရယူလုပ်ဆောင် သွားရန်ဖြစ်ပါသည်။ SUPPLIERS' CREDIT AGREEMENT ကို ယခု ရင်းနှီးမြှုပ်နှံမှု ကို ခွင့်ပြုပါက စာချုပ်ချုပ်ဆိုမည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။ [illegible]

၆။ အဆိုပြုတင်ပြသည့် လုပ်ငန်းသည် လုပ်ငန်းသစ်ဖြစ်ပြီး ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ ကုန်ကြမ်းများကို SUPPLIERS' CREDIT စနစ်ဖြင့် ဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ မိမိ (ငွေချေးသူ) ၏ တာဝန်သာဖြစ်ပါသည်။

[illegible]

ပုံစံ(မနသ-၂)

စာအမှတ် ၃၇၇၃
နေ့စွဲ ၂၃-၇-၉၄

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၂၇၅/၉၄ ၁၉၉၄ ခုနှစ်၊ ဇူလိုင် လ ၂၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးသိန်းဟန်

(ခ) အဘအမည် ဦးမောင်မောင်သန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ဘီ/အဂရအင်(နိုင်)-၀၂၃၄၇၅

(ဃ) နေရပ်လိပ်စာ ၁၀၅/၇၊ သိမ်လွင်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်း

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း မြန်မာပိုက်များနှင့် အသုံးအဆောင်များကုမ္ပဏီလီမိတက် (Myanmar Pipes and Accessories Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ပိုက်အမျိုးမျိုးနှင့်ပလပ်စတစ်အသုံးအဆောင်ပစ္စည်းများ ထုတ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်(၆/က)နှင့် (၆/ခ)၊ စက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၁၂၀.၇၀ သန်း (ကျပ်သန်းတစ်ရာ့နှစ်ဆယ် နှင့်ခုနစ်သိန်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်